ကုမ္ပဏီအမည် - Four Rivers Inya Office Co., Ltd.

လုပ်ငန်း - Construction of Office Tower, Leasing and Management of Office Space

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၆-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၁-၁၂-၂၀၁၆ | ၉-၁-၂၀၁၇ | (၂၀) ရက် |
| | (ခ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၂၁-၁၂-၂၀၁၆ | ၂၃-၅-၂၀၁၆ | (၃၄) ရက် |
| | (ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၁-၁၂-၂၀၁၆ | ၅-၁-၂၀၁၇ | (၁၆) ရက် |
| | (ဃ)ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ | ၂၁-၁၂-၂၀၁၆ | ၂၄-၁-၂၀၁၇ | (၃၅)ရက် |
| | (င) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၁-၁၂-၂၀၁၆ | ၁၀-၂-၂၀၁၇ | (၄၀) ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၇/၂၀၁၆) သို့ တင်ပြခြင်း | ၁၉-၁၂-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၇/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၇-၁၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုလွှာများ ပြင်ဆင်တင်ပြလာခြင်း | | ၁၀-၂-၂၀၁၇ | |
| ၆ | ကော်မရှင်အစည်းအဝေးသို့တင်ပြမည့်အကြိမ် | ၆/၂၀၁၇<br>(၅-၄-၂၀၁၇) | | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | ၁၂၀ ရက် | | |

ကုမ္ပဏီအမည် - **Four Rivers Inya Office Company Limited**

အဖွဲ့အစည်းပုံသဏ္ဍာန် - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
Four Rivers Real Estate Pte. Ltd. (Singapore)99 %
Mr. Randolph Post Eddy III ( United State of America) 1 %

လုပ်ငန်းအမျိုးအစား - Construction of Office Tower, Leasing and Management of Office Space

တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် ၈၅၊ မြေကွက်အမှတ်၅ (A/၁) နှင့် (A/၂)၊ အမှတ် -၂၀

စုစုပေါင်းမတည်ငွေရင်း - US$ ၄၀.၄၄၇ သန်း

လုပ်ငန်းသက်တမ်း - ၄၀ နှစ်

အရင်းကြေကာလ - ၁၄ နှစ်

IRR - ၁၃ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

(ကျပ် သန်း)

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ (တစ်နှစ်) | ၃.၀၀ | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၅၀ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ၂၃၈၄.၄၀ |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၁၁၀.၃၀ | - |
| ၅ | ဝင်ငွေခွန် | ၁၃၆၃.၅၄ | ၄၄၂၅.၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၂၇.၄၃ |
| ၇ | CSR (၃ %) | - | ၁၄၉.၃၂ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း ၅၁ ဦး<br>ပြည်ပ ၁ ဦး |
| | | | ပြည်တွင်းလုပ်သား (၅၂) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၂၄၇၆.၈၄ | ၇၃၈၆.၆၅ |
| | Cost **:** Benefit | ၁ **:** ၃ | |

## Four Rivers Inya Office Co., Ltd. မှ ဆောင်ရွက်မည့် Office Tower (Leasing Office Tower to International Tenants) လုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိက အချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Four Rivers Inya Office Co., Ltd. |
| | ကမကထပြုသူ | - Mr. Randolph Post Eddy III (ဒါရိုက်တာ) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Four Rivers Real Estate Pte. Ltd., (Singapore) ၉၉.၉၉ %<br>- Mr. Randolph Post Eddy III (United States of America) ၀.၀၁ % |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Construction of Office Building, Leasing and Management of Office Space |
| | တည်နေရာ | - မြေကွက်အမှတ် ၅(A/၁)နှင့်(A/၂)၊မြေတိုင်းရပ်ကွက် အမှတ် ၈၅၊ အမှတ်-၂၀၊ ကံဘဲ့ရပ်ကွက်၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | အကျယ်အဝန်း | - မြေဧရိယာ ၀.၄၈ ဧက (စတုရန်းမီတာ ၁၉၄၂.၄၉၁၀၈) |
| | မြေပိုင်ရှင် | - ဒေါ်သန်းသန်းထွတ် |
| | တစ်နှစ်မြေငှားရမ်းခ | - US$ ၆၃၀,၀၀၀ (တစ်လမြေငှားရမ်းခ US$ ၅၂,၅၀၀) |
| ၄။ | မတည်ငွေရင်းပမာဏ | - US$ ၄၁.၄၄၇ သန်း |
| | **ထည့်ဝင်မှုအမျိုးအစား** | **US $ (သန်း)** |
| | ငွေသား | ၁၂.၀၀၀ |
| | စက်နှင့်စက်ပစ္စည်းကိရိယာများ | ၁၈.၇၆၀ |
| | အခြား | ၁၀.၆၈၇ |
| | **စုစုပေါင်း** | **၄၁.၄၄၇** |
| | | (ရှယ်ယာထည့်ဝင်မှု US$ ၁၂.၀၀ သန်း(၂၉ % )၊ ရှယ်ယာဝင်ထံမှချေးငွေ US$ ၉.၅၅ သန်း (၂၃ % ) နှင့် Overseas Private and Investment Corporation (OPIC) ထံမှချေးငွေUS$ ၁၉.၉၀ သန်း(၄၈ %) အပါ အဝင် စုစုပေါင်းမတည်ရင်းနှီးငွေ ပမာဏ US$ ၄၁.၄၄၇ သန်း) |
| ၅။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၄၀ နှစ် |
| ၆။ | တည်ဆောက်ရေးကာလ | - ၂ နှစ် ၆ လ |
| ၇။ | ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၇.၆၀ သန်း |
| | အသုံးစရိတ် (၆ နှစ်မြောက်) | - US$ ၅.၉၇ သန်း |
| | အသားတင်အမြတ် ( ။ ) | - US$ ၁.၆၃ သန်း |

| | | |
|---|---|---|
| ၈။ | **နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်** (၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၅၄ သန်း<br>- US$ ၀.၄၁ သန်း |
| ၉။ | | - အဆိုပြု လုပ်ငန်း၏ ဝန်ဆောင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်- |
| ၁၀။ | **ဝန်ထမ်းအင်အား**<br>ပြည်တွင်း<br><br>ပြည်ပ | - ၅၂ ဦး<br>- ၅၁ ဦး ( အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ တစ်လ အတွက် လစာ မှာ US$ ၄၀၀ နှင့် အမြင့်ဆုံး လစာ မှာ US$ ၂,၅၀၀ ဖြစ်ပါသည်။<br>- ၁ ဦး (ဝန်ထမ်း၏ တစ်လ ပျမ်းမျှလစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။ |
| ၁၁။ | အရင်းကြေကာလ | - ၁၄ နှစ် |
| ၁၂။ | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၁၃ % |
| ၁၃။ | CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၄။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၁၉၁၅၅၄၄ kWh |

| ငှားရမ်းနိုင်မည့် ဧရိယာ (စတုရန်းမီတာ) | Occupancy Rate (%) | ငှားရမ်းခနှုန်းထား (US$/စတုရန်းမီတာ) |
|---|---|---|
| ၁၂၉၇၂ | ၈၅ | ၄၃ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၄/န-၀၇၈/၂၀၁၇ ( ၂၀၇ )
ရက်စွဲ ၊ ၂၀၁၇ခုနှစ် ဖေဖော်ဝါရီ လ ၁၇ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Four Rivers Inya Office Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်းတွင် Construction of Office Tower, Leasing and Management of Office Space လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံရှိ Four Rivers Real Estate Pte. Ltd., မှ အစုရှယ်ယာ ၉၉.၉၉ % နှင့် အမေရိကန်နိုင်ငံရှိ Mr. Randolph Post Eddy III မှ ၀.၀၁ % တို့ ထည့်ဝင်၍ Four Rivers Inya Office Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် ၈၅၊ မြေကွက်အမှတ် ၅(A/၁) နှင့် (A/၂)၊ အမှတ်-၂၀ ရှိ မြေဧရိယာ ၀.၄၈ ဧကတွင် Basement(၂) ထပ်နှင့် (၁၉)ထပ် အဆောက်အဦ ဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Randolph Post Eddy III မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းအပေါ် ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၄၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ Four Rivers Inya Office Co., Ltd. သည် ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၈၉၀ အက်ဖ်စီ /၂၀၁၆-၂၀၁၇ (ရက) ဖြင့် မှတ်ပုံတင်ထားသည့် ယာယီ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းများအား တင်ပြထားပါသည်။

၃။ Four Rivers Inya Office Co., Ltd. သည် Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအတွက် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင်၏ ပိုင်ဆိုင်မှု အထောက်အထားနှင့် အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏတွင် ပါဝင်သော ချေးငွေနှစ်ခုဖြစ်သော ရှယ်ယာဝင်ထံမှ ချေးငွေ US$ ၉.၅၅သန်း နှင့် Overseas Private and Investment Corporation (OPIC)ထံမှ ချေးငွေ US$ ၁၉.၉၀ သန်းတို့အတွက် ချေးငွေစာချုပ် (မူကြမ်း)များနှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်များ တင်ပြထားပါသည်။

၄။ လုပ်ငန်း စီမံကိန်း ကာလမှာ ၄၀ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ ၂ နှစ် နှင့် ၆ လ ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက လုပ်ငန်းများ စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၄၁.၄၄၇သန်းဖြစ်ပြီး နိုင်ငံခြားမတည်ငွေရင်းမှာ ရှယ်ယာထည့်ဝင်မှု အမေရိကန်ဒေါ်လာ ၁၂.၀၀ သန်း၊ ရှယ်ယာဝင်ထံမှချေးငွေ အမေရိကန် ဒေါ်လာ

၉.၅၅သန်းနှင့် Overseas Private and Investment Corporation (OPIC)ထံမှချေးငွေ အမေရိကန်ဒေါ်လာ ၁၉.၉၀ သန်းအပါအဝင်ဖြစ်ပါသည်။ရင်းနှီးမြှုပ်နှံထည့်ဝင်မှုအမျိုးအစားမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | အမေရိကန်ဒေါ်လာ **(သန်း)** |
|---|---|
| ငွေသား | ၁၂.၀၀၀ |
| စက်နှင့် စက်ပစ္စည်း | ၁၈.၇၆၀ |
| အခြား | ၁၀.၆၈၇ |
| **စုစုပေါင်း** | ၄၁.၄၄၇ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၁ ဦးနှင့် ပြည်ပဝန်ထမ်း ၁ ဦး စုစုပေါင်းဝန်ထမ်း ၅၂ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် အမေရိကန်ဒေါ်လာ ၄၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ တစ်လလျှင် အမေရိကန်ဒေါ်လာ ၂,၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လပျမ်းမျှလစာမှာ အမေရိကန်ဒေါ်လာ ၄,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြု လုပ်ငန်း၏ ဝန်ဆောင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ငှားရမ်းနိုင်မည့် ဧရိယာ (စတုရန်းမီတာ) | Occupancy Rate (%) | ငှားရမ်းခနှုန်းထား (US$/စတုရန်းမီတာ) |
|---|---|---|
| ၁၂၉၇၂ | ၈၅ | ၄၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇.၆၀ |
| (ခ) | အသုံးစရိတ် | ၅.၉၇ |
| (ဂ) | အသားတင်အမြတ် | ၁.၆၃ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမနှစ်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၅၄ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၄၁ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၄ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRRမှာ ၁၃ % ဖြစ်ပါသည်။ ငွေကြေးလဲလှယ်မှုနှုန်းမှာ အမေရိကန်တစ်ဒေါ်လာ လျှင် ၁,၂၀၀ ကျပ် နှုန်းဖြင့် တွက်ချက်တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ သဘောထား ပြန်ကြားချက်များမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၈ရက်နေ့တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၅)အရ ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility–CSR) အတွက်အမြတ်ငွေ၏ ၂ % (သို့မဟုတ်) ၃ % အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် လုပ်ငန်း အကောင်အထည်မဖော်မီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE )ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်စေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

**ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။**

(ဂ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်** **(နောက်ဆက်တွဲ-ဂ)**

Equityအဖြစ်ထည့်ဝင်မည့် အမေရိကန်ဒေါ်လာ ၁၂ သန်းအနက် မတည်ငွေရင်းထည့်ဝင်ထားခြင်း မရှိသေးသောကြောင့် မတည်ရင်းနှီးငွေ ထည့်ဝင်ပြီးမှသာ ချေးငွေခွင့်ပြုမိန့် လျှောက်ထားရန်ဖြစ်ကြောင်း။

**ကုမ္ပဏီမှ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။**

(ဃ) **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ** **(နောက်ဆက်တွဲ-ဃ)**

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ ပုံစံခွင့်ပြုမိန့်ရယူရာတွင် အင်ဂျင်နီယာဌာန(အဆောက်အဦ)၊ အင်ဂျင်နီယာဌာန (လမ်းနှင့်တံတား)၊ အင်ဂျင်နီယာဌာန (ရေနှင့်သန့်ရှင်းမှု)နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းရေးဌာနတို့၏ လုပ်ထုံးလုပ်နည်းများ၊ နည်းဥပဒေများနှင့်အညီ လိုက်နာရေးဆွဲတင်ပြပြီး ဆောက်လုပ်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း။

**ကုမ္ပဏီမှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။**

(င) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-င)**

(၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းအနေဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းအမီတည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြပါသည်-

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင် သော အရေ အတွက် | ထောက်ခံတင်ပြ သော အရေအတွက် |
|---|---|---|---|---|
| ၁ | Cement | ၁၁၃၀.၇၄ Ton | ၁၁၂၇.၆၄ Ton | ၁၁၂၇.၆၄ Ton |
| ၂ | Rebar | ၃၉၇.၇၄ Ton | ၃၉၇.၉၈ Ton | ၃၉၇.၇၄ Ton |
| ၃ | Structural Steel | ၁၆၆၅ Ton | ၁၆၆၅.၄၂ Ton | ၁၅၈၃ Ton |
| ၄ | Fire Rated Paint | ၈၁၄၀၀ Lit | ၈၁၄၀၀ Lit | ၇၇၃၃၀ Lit |
| ၅ | Emulsion Paint | ၁၅၁၂၂ Lit | ၁၅၁၂၂ Lit | ၁၅၁၂၂ Lit |

၁၁။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၂။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်တွင် Four Rivers Inya Office Co., Ltd. အမည်ဖြင့် ၃၁-၁-၂၀၁၇ ရက်စွဲပါ လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၇၅,၀၈၉ နှင့် မိခင်ကုမ္ပဏီ ဖြစ်သော Four Rivers Real Estate Pte, Ltd ၏ စင်ကာပူနိုင်ငံရှိ OCBC Bank နှင့် Cayman Islands ရှိ Cayman National Bank တို့တွင် ဖွင့်လှစ်ထားရှိသော ငွေစာရင်း အထောက်အထားများ တင်ပြထားပါသည်။

၁၃။ နှစ်စဉ်လျှပ်စစ်ဓာတ်အားသုံးစွဲမှုမှာ ၁၁၉၁၅၅၄၄ kWh ခန့်သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး ဆောင်ရွက်မည့်အစီအစဉ်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်နှင့် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်တို့အား တင်ပြထားပါသည်။ ယာဉ်ကြောပိတ်ဆို့မှုမရှိစေရေးအတွက်ကြိုတင်ပြင်ဆင်ထားရှိမှု အခြေအနေ (Traffic Management Plan) တင်ပြထားပါသည်။

၁၅။ လုပ်ငန်း၏ နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂% (သို့မဟုတ်)၃ % အား လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility - CSR) အဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

**၁၆။** အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ပြည်ပမှစက်ပစ္စည်းတင်သွင်းရာတွင် လူစီးမော်တော်ယာဥ်များပါဝင်ပါက သက်ဆိုင်ရာ ကုန်သွယ်လုပ်ငန်းခွန်များ ပေးဆောင်တင်သွင်းရမည်ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပုဂ္ဂလိကမြေနှင့် စပ်လျဥ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြရန် ဆောင်ရွက်ထားဆဲဖြစ်ပါသည်။

(ဂ) အထပ်မြင့် အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဘေးပတ်ဝန်းကျင်မှ လူနေအိမ်များ၊ Micasa Hotel နှင့် ရန်ကုန်တိုင်းစစ်ဌာနချုပ်၊ တပ်မတော်ပိုင်မြေ အမှတ်(၂၂) အရာရှိအိမ်ယာတို့မှ ကန့်ကွက်ရန် မရှိပါကြောင်း ထောက်ခံချက်များ တင်ပြထားပါသည်။

(ဃ) Basement တွင် ကားအစီးရေ (၄၇) စီးရပ်နားနိုင်သော Car Parking နှင့် First Floor မှ Fourth Floor ထိကားအစီးရေ (၈၂) စီးရပ်နားနိုင်သော Car Parking တို့ ထည့်သွင်းတည်ဆောက်မည်ဖြစ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Four Rivers Inya Office Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေး ဘုရားလမ်း၊ အမှတ်(၂၀)ရှိ မြေဧရိယာ ၀.၄၈ဧကတွင် Basement(၂) ထပ်နှင့်(၁၉)ထပ် အဆောက်အဦ ဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး



စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၄/ န-၀၇၈/၂၀၁၆(၁၁၁၅)

၁။ စင်ကာပူနိုင်ငံ Four Rivers Real Estate Pte .Ltd. မှ အစုရှယ်ယာ ၉၉. ၉၉%နှင့် အမေရိကန်နိုင်ငံရှိ Mr. Randolph Post Eddy lll မှ ၀. ၀၁%တို့ ထည့်ဝင်၍ Four Rivers Inya Office Co.,Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာ့အေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၈၅၊ မြေကွက်အမှတ် ၅(အေ/၁) နှင့် (အေ/၂)၊ အမှတ်-၂၀ ရှိ မြေဧရိယာ ၀. ၄၈ ဧကတွင် Basement (၂)ထပ်နှင့် (၁၉)ထပ် အဆောက်အဦးဆောက်လုပ်၍ Construction of Office Tower, Leasing and Manangement of Office Space လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၈. ၁၂. ၂၀၁၆)ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၅)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Four Rivers Inya Office Co.,Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/27(2)

နောက်ဆက်တွဲ-ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

ရန်ကုန်မြို့

စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၈ / ၁၇ )

ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Four Rivers Inya Office Co., Ltd. မှ Basement (၂) ထပ်နှင့် (၁၉) ထပ် အဆောက်အဦ ဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၄/ န-၀၇၈/ ၂၀၁၆ (၁၁၁၆)

၁။ စင်္ကာပူနိုင်ငံရှိ Four Rivers Real Estate Pte. Ltd., မှ အစုရှယ်ယာ ၉၉.၉၉% နှင့် အမေရိကန်နိုင်ငံရှိ Mr. Randolph Post Eddy III မှ ၀.၀၁% တို့ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Four Rivers Inya Office Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ်-၈၅၊ မြေကွက်အမှတ်- ၅(အေ/၁) နှင့် (အေ/၂)၊ အမှတ်- ၂၀ ရှိ မြေဧရိယာ ၀.၄၈ ဧက(၁၉၄၂.၄၉၁ စတုရန်းမီတာ) ကို ငှားရမ်း၍ Basement (၂) ထပ်နှင့် (၁၉) ထပ် အဆောက်အဦ ဆောက်လုပ်ကာ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၄၀) နှစ်ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြု Basement (၂) ထပ်နှင့် (၁၉) ထပ်ပါ Office Tower အဆောက်အဦတွင် ခေါင်းမိုးထပ် (၁) ထပ်၊ ရုံးခန်းပြုလုပ်မည့် အထပ် (၁၃) ထပ်၊ ကားအစီး (၁၃၀) ရပ်နား

နိုင်သည့် အထပ် (၄) ထပ်၊ ညှော့ကြိုခန်းမကြီး (၁) ထပ်နှင့် မြေအောက်ထပ် (၂) ထပ်ကို ထည့်သွင်း တည်ဆောက်သွားမည်ဖြစ်ပြီး အဆောက်အဦ အသုံးပြုဧရိယာ စုစုပေါင်း (၂၃၁၇၁.၀၅ စတုရန်းမီတာ) ရှိ ကြောင်း၊

(ဂ) လုပ်ငန်းခွင် သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂% (သို့မဟုတ်) ၃% ကို လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ စီမံကိန်းလုပ်ငန်းကြီး (၁) ခုလုံးအတွက် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) ကို Four Rivers Inya Office Co., Ltd မှ တာဝန်ယူရေးဆွဲ၍ လေးလအတွင်းပေးပို့ အစီရင်ခံတင်ပြသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Four Rivers Inya Office Co., Ltd. မှ Basement (၂) ထပ်နှင့် (၁၉) ထပ်ပါ Office Tower အဆောက်အဦ (၁) လုံးတည်ဆောက်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှထွက်ရှိလာမည့် မြေသား အမှုန်၊ အမွှား၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ရုံးခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့် စွန့်ပစ်ပစ္စည်း အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Four Rivers Inya Office Co., Ltd. မှ အထပ် (၂၃) ထပ်ပါ Office Tower (၁) လုံး တည်ဆောက်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% (သို့မဟုတ်) ၃% အား အသုံးပြုခြင်း အပါအဝင်ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာ ဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး - ၃၉/ဖြ၈
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၁.၁၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက - ၄/န-၀၇၈/ ၂၀၁၆ (၁၁၁၇)

စင်ကာပူနိုင်ငံရှိ Four Rivers Real Estate Pte., Ltd မှ အစုရှယ်ယာ ၉၉.၉၉ % နှင့် အမေရိကန်နိုင်ငံရှိ Mr. Randolph Post Eddy III မှ ၀.၀၁% တို့ ထည့်ဝင်၍ ဖွဲ့စည်းထားသော Four Rivers Inya Office co., Ltd သည် Basement (၂) ထပ်နှင့် (၁၉) ထပ် အဆောက်အဦဆောက်လုပ်၍ Office Space ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် မိခင်ကုမ္ပဏီဖြစ်သည့် Four Rivers Real Estate Pte., Ltd ထံမှ အမေရိကန်ဒေါ်လာ (၉.၅၅) သန်းနှင့် Over Private Investment Corporation ထံမှ အမေရိကန်ဒေါ်လာ(၁၉.၉) သန်း ချေးငွေရယူရန် တင်ပြခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်က သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

> "Four Rivers Inya Office co., Ltd အနေဖြင့် Equity အဖြစ် ထည့်ဝင်မည့် အမေရိကန်ဒေါ်လာ(၁၂) သန်းအနက် မတည်ငွေရင်းထည့်ဝင်ထားခြင်း မရှိသေးသောကြောင့် မတည်ရင်းနှီးငွေ ထည့်ဝင်ပြီးမှသာ ချေးငွေအား ပြန်လည်လျှောက်ထားရန် ဖြစ်ပါသည်"

ဒုတိယဥက္ကဋ္ဌ ( ကိုယ်စား )
( ဝင်းသော် ၊ ညွှန်ကြားရေးမှူးချုပ် )

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဒုတိယဥက္ကဋ္ဌ(၁)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
Four Rivers Inya Office Co., Ltd
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့



စာအမှတ်၊ ၁၀၉/ ၀၁ ( ၂၀၅ ) / စသက
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Four Rivers Inya Office Co., Ltd. မှ တည်ဆောက်မည့် Basement ၂ထပ်+ ၁၉ထပ် အဆောက်အဦနှင့်ပတ်သက်၍ MIC မှသဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက - ၄/န - ၀၇၈ / ၂၀၁၆ (၁၁၁၈)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ၈၅၊ မြေကွက်အမှတ် ၅(အေ/၁)နှင့်(အေ/၂)၊ အမှတ် ၂၀ရှိ မြေဧရိယာ ၀.၄၈ ဧကတွင် စင်္ကာပူနိုင်ငံရှိ Four Rivers Real Estate PteLtd. မှ ၉၉.၉၉% နှင့် အမေရိကန်နိုင်ငံရှိ Mr. Randolph Post Eddy III မှ ၀.၀၁% တို့ထည့်ဝင်၍ Four Rivers Inya Office Co., Ltd. တည်ထောင်ကာ Basement(၂)ထပ်+(၁၉)ထပ်အဆောက်အဦဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းအားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလျှောက်ထားခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ရက်သတ္တပတ်တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာပါသည်။

၂။ အဆိုပါစီမံကိန်းနှင့်ပတ်သက်၍ မြေအသုံးချမှုအနေဖြင့် ဒေါ်သန်းသန်းထွတ်အမည်ပေါက်ဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ထုတ်ပေးထားသည့် ၂၀၁၅-၂၀၁၆ C/Map ၊ D/Map တို့ဖြင့် တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းအားစိစစ်ရာ ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် ယခင်ရန်ကုန်မြို့ပြစီမံကိန်း၏ မြို့မြေအသုံးချခြင်းနှင့်အဆောက်အဦအမြင့်ဇုန်များအရ မြို့မြေအသုံးချမှုမျိုးစုံရောနှောပါဝင်နိုင်သည့်ဇုန် Mix Use Area ဖြစ်ပြီး FAR ၁၀ ၊ BCR ၀.၆ဖြင့် သတ်မှတ်ခဲ့သည့်နေရာဖြစ်ပါသည်။

၄။ အဆိုပြုနေရာသည် ရွှေတိဂုံဘုရားကန့်သတ်ဧရိယာပြင်ပတွင်တည်ရှိနေပြီး အဆောက်အဦအမြင့် ၂၅၂'-၂" ဖြစ်ပြီး ပင်လယ်ရေမျက်နှာပြင်အထက်အမြင့် ၂၈၉'-၈" ခန့်ဖြစ်သဖြင့် အဆောက်အဦအမြင့် ဇုန်အရ ပင်လယ်ရေမျက်နှာပြင်အထက် ၄၁၇ပေ မကျော်ရန်ကန့်သတ်ထားသော နယ်မြေအတွင်း တည်ရှိခြင်းတို့ကြောင့် ကိုက်ညီမှုရှိပါသည်။

၅။ တင်ပြလာသောပုံစံများအားစိစစ်ရာ Basement1 နှင့် 2 အား Car Parking ဧရိယာအဖြစ်လည်းကောင်း၊ Ground Floor တွင် Main Lobby ၊ Coffee Lounge ၊ Basement နှင့် 1st Floor သို့ဝင်/ထွက်မည့် Ramp ဧရိယာအဖြစ်လည်းကောင်း၊ 1st Floor မှ 4th Floor အထိ Car Parking ဧရိယာအဖြစ်လည်းကောင်း၊ 5th Floor မှ 17th Floor အထိ Office Area အဖြစ် လည်းကောင်း၊ 18thFloor အား Staff Canteen, Roof Garden အဖြစ်လည်းကောင်း ပါဝင်ဖွဲ့စည်းထားသည့် Steel Structure အဆောက်အဦအမျိုးအစားဖြစ်ပြီး စုစုပေါင်း ကြမ်းခင်းဧရိယာ ၂၃၇၇၀.၀၅ စ/ပေ ပါဝင်ကြောင်းတွေ့ရှိရပါသည်။ တင်ပြပါ Data များအရ FAR ၇.၉၇ ခန့်ရှိပြီး BCR ၀.၆ ခန့်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ အဆိုပါအဆောက်အဦအား ရှေ့ဘက်တွင်အကျဉ်းဆုံးနေရာ၌ ၃၉'-၄" ၊ နောက်ဘက်တွင် အကျဉ်းဆုံးနေရာ၌ ၆'-၁၁" ၊ ဝဲဘက်တွင် ၁၀'-၆" ၊ ယာဘက်တွင် ၆'-၁" ချန်၍ တည်ဆောက်မည့် ပုံစံဖြင့် တင်ပြထားပြီး Office Area ၁၂၉၇၂.၉၄ စ/ပေပါဝင်သဖြင့် လိုအပ်ကားစီးရေ ၁၃၀စီးဖြစ်ပြီး တင်ပြထားသည့်ကားစီးရေမှာ ၁၂၉ စီး ဖြစ်ပါသဖြင့် ကားတစ်စီးစာရပ်နားရန်နေရာ လိုအပ်နေပါသည်။ Road Building Ratio အား စိစစ်ရာ ကမ္ဘာအေးဘုရားလမ်းအကျယ် ၈၇' နှင့်ရှေ့မြေချန် ၃၉'-၄" ဖြင့်တွက်ချက်ပါက ၂၅၂'-၈" ဖြစ်ပြီးတင်ပြ အဆောက်အဦ၏အမြင့်မှာ ၂၅၂'-၂" ဖြစ်ပါသဖြင့်ကိုက်ညီမှုရှိပါသည်။

၇။ သို့ဖြစ်ပါ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ ပုံစံခွင့်ပြုမိန့်ရယူရာတွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ဌာနများဖြစ်သည့် အင်ဂျင်နီယာဌာန(အဆောက်အအုံ)၊ အင်ဂျင်နီယာဌာန(လမ်းနှင့်တံတား)၊ အင်ဂျင်နီယာဌာန(ရေနှင့်သန့်ရှင်းမှု)နှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သန့်ရှင်းရေးဌာနတို့၏ လုပ်ထုံးလုပ်နည်းများ၊ နည်းဥပဒေများနှင့်အညီ လိုက်နာရေးဆွဲတင်ပြပြီး ဆောက်လုပ်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို
- မျှောစာတွဲ
- ရုံးလက်ခံ

နောက်ဆက်တွဲ-င


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**MYANMAR ENGINEERING SOCIETY**

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar

Tel : 95-1-519673 ~ 76, Fax : 95-1-519681

E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၀၁၀၉ / ၂၀၁၇။

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၀ ) ရက်။

**အကြောင်းအရာ။** **။Four Rivers Inya Office Co., Ltd. ၏ Basement (၂)ထပ်နှင့် (၁၉)ထပ် အဆောက်အဦ ဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Office Space လုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။**

**ရည်ညွှန်းချက်** ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၂၁)ရက် နေ့စွဲပါ စာအမှတ် မရက-၄/န-၀၇၈/၂၀၁၆(၁၁၁၉)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Four Rivers Inya Office Co., Ltd. မှ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၂၁) ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကင်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ ကံဘဲ့ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် ၈၅၊ မြေကွက်အမှတ် ၅(အေ/၁) နှင့် (အေ/၂)၊ အမှတ်-၂၀ ရှိ မြေဧရိယာ ၀.၄၈ ဧကတွင် Basement (၂)ထပ်နှင့် (၁၉)ထပ် အဆောက်အဦ ဆောက်လုပ်၍ Construction of Office Tower, Leasing and Management of Ofice Space လုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ လိုအပ်ချက်များဖြစ်သော Drawings နှင့် Bill of Quantity များကို (၂၄.၁.၂၀၁၇) ရက်နေ့မှစ၍ တောင်းခံခဲ့ရာ (၁.၂.၂၀၁၇) ရက်နေ့တွင် ပြည့်စုံစွာ လာရောက်ပေးပို့ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ သေချာစွာ စိစစ်နိုင်ရန် ဖိတ်ကြားချက်အရ Four Rivers Inya Office Co., Ltd. မှ တာဝန်ရှိသူများ ဖြစ်ကြသော Mr. Paul Prescott၊ ဒေါ်မိမိအေးအောင်၊ ဒေါ်မိုးသဲဖြူ၊ ဦးကျော်ကျော်နိုင်၊ ဦးရဲနိုင်စိုး၊ ဒေါ်မေမိုးမိုးခိုင်၊ ဒေါ်ရွှေနှင်းဆီနှင့် ဦးရန်ကျော်အောင် တို့သည် (၇.၂.၂၀၁၇) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ လာရောက်၍ စီမံကိန်းနှင့် ပတ်သက်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့ပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ အဖွဲ့ဝင်များ ဖြစ်ကြသော ဥက္ကဋ္ဌ ဦးအောင်မြင့်၊ အတွင်းရေးမှူး ဦးကြည်လွင်၊ အဖွဲ့ဝင်များဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးခင်မောင်ဌေး၊ ဦးခင်မောင်မောင်၊ ဦးခင်မောင်ဝင်း နှင့် ဦးစောထွေးဇော်တို့ တက်ရောက်ကြပြီး သိလိုသည်များကို မေးမြန်းဆွေးနွေးကြပါသည်။

၅။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် Construction of Office Tower, Leasing and Management of Ofice Space လုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၆။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၁၁၃၀.၇၄ Ton | ၁၁၂၇.၆၄ Ton | ၁၁၂၇.၆၄ Ton |
| ၂။ | Rebar | ၃၉၇.၇၄ Ton | ၃၉၇.၉၈ Ton | ၃၉၇.၇၄ Ton |
| ၃။ | Structural Steel | ၁၆၆၅ Ton | ၁၆၆၅.၄၂ Ton | ၁၅၈၃ Ton |
| ၄။ | Fire Rated Paint | ၈၁၄၀၀ Lit | ၈၁၄၀၀ Lit | ၇၇၃၃၀ Lit |
| ၅။ | Emulsion Paint | ၁၅၁၂၂ Lit | ၁၅၁၂၂ Lit | ၁၅၁၂၂ Lit |

Ton = တန်, Lit = လီတာ

၇။ အဆောက်အဦ၏ Electrical, Water Supply & Sanitation နှင့် Aircondition System တို့ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း တင်ပြအပ်ပါသည်။

၈။ Emergency လှေကား ၂-ခုသည် အဆောက်အဦ၏ အလယ်နေရာတွင် တည်ရှိနေပြီး၊ အရေးပေါ်အခြေအနေ ဖြစ်ပေါ်လာပါက ပြေးလမ်း လွတ်လမ်း ကောင်းမွန်စေရန် အဆောက်အဦ အပြင်ဘက်သို့ လှေကားတစ်စင်း ပြောင်းရွှေ့သင့်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - Managing Director, Four Rivers Inya Office Co., Ltd.
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

Four Rivers Inya Office Co., Ltd.

# MYANMAR INVESTMENT COMMISSION APPLICATION
for
# OFFICE BUILDING CONSTRUCTION

Yangon

Republic of the Union of Myanmar

# Four Rivers Inya Office Co., Ltd.

**Proposed Investment to incorporate as foreign owned company in The Republic Of The Union of Myann**

Index

# Four Rivers Inya Office Co., Ltd.

30 November 2016

Chairman
Myanmar Investment Commission
Yangon
Myanmar

To Whom It May Concern:

Four Rivers Real Estate Pte. Ltd. is a Singapore registered company backed by United States investors seeking to develop real estate projects in Myanmar. The company seeks to establish Four Rivers Inya Office Co. Ltd. as a joint venture company combining experienced American emerging market investors with a highly respected local company and landowner.

Four Rivers aims to invest responsibly in the growing Myanmar construction market and meet the increasing demand for Grade A office space for multinational and local clients. The Company is committed to Responsible Investing, CSR and Sustainable Development Principles. These are an integral part of the Company's Business Plan and are developed in specific sections below.

## *Market Analysis*

Being the former capital city and the present commercial hub of Myanmar, Yangon has very limited spaces for new offices, particularly in prime locations of the city. Since Myanmar has opened its doors in recent years, the demands for high quality office spaces have soared rapidly, as are the rental prices. With the annual growth rate of 2-3%, the need for more office space in the city is enormous. At the same time, demand for offices for expatriates and multinational companies are soaring as an increasing number of business are coming to set up operations in Myanmar.

Currently, there is approximately only 150,000 m2 of purpose built, Grade A office space in Yangon. This project aims to fill this gap by providing international quality office space that appeals to local companies and international corporations expanding their presence in Myanmar. The current office space market is fragmented between the few existing office buildings and converted residential condominiums and detached houses. These types of buildings are not suitable for the long-term growth of international companies that desire purpose built buildings with the highest standards of build quality and property management services.

## *Project Description*

Four Rivers will utilize a team of international design consultants, engineers, architects and construction contractors to build an iconic, international standard office building compromising of 18 floors above ground with two basements. It will be designed with the most modern, energy efficient methods available and include adequate parking and green space. The building will compromise a total constructed floor area (CFA) of 23,171 m2/249,411 Sq-ft and approximately 12,972 m2/139,640 Sq-ft of net leasable office space (NLA). It will include approximate 130 parking spots, in compliance with current YCDC regulations.

Based on the market situation, business activities of the Company will include the following:

1. Managed Office Tower: Providing a fully finished office building with open floor plan including staffed reception and lobby, cleaning and maintenance, IT services, and parking.

2. International quality management of the building which will include; Maintenance of the building and facilities, routine pest control, environmental and waste management and a high degree of property security.

3. Branded Food & Beverage facilities (quantity yet to be decided).

All management functions of the property will be performed to international standards utilizing worldwide accepted best practices.

***Project Operations***

Four Rivers is committed to responsible investing and abiding by a code of conduct that places emphasis on the health and well-being of its employees and a high regard for ethical and sustainable development.

In order to run its operations efficiently and in line with internal corporate social responsibility principles, Four Rivers will recruit locally for **52 full-time, direct hire employees**. In addition to direct hire employees, the Company will also employ approximately **20 additional local part-time staff** through sub-contractors in areas of landscape and property maintenance, pest control, security, drivers, marketing firms, etc. The construction phase of the building **will create approximately 315 jobs** during the 3 year build cycle.

Four Rivers will offer a range of employee benefits and training/skills programs to team members working at the company's Myanmar projects. We will respect the practices, laws and regulations of the Republic of the Union of Myanmar. Where applicable, the Company will provide the highest level of employee benefits it is able to do so, in full compliance with the Republic of Union of Myanmar Labour Law. Those benefits offered to employees may include some or all of the following:

<table>
<tr><th colspan="2">Pay and Benefits</th></tr>
<tr><td>□ Fixed pay with competitive positioning<br>□ Variable pay<br>o Short-term bonus (linked to objectives)<br>o Sales incentives<br>o Other variable remuneration plans</td><td>□ Employee benefits:<br>o Pension and Retirement schemes<br>o Insurance benefits (medical, disability and life)<br>o Paid Vacation days<br>o Paid Sick Leave<br>o Tuition assistance for employee capacity building (continuing education)<br>o Tuition assistance for employee dependents (children)</td></tr>
</table>

<table>
<tr><th colspan="2">Types of Assistance and Training Programs</th></tr>
<tr><td>Personal growth and development<br>□ Performance evaluation<br>□ Development and Career skills<br>□ Training and learning skills<br>□ Opportunities for skills training outside of Myanmar</td><td>Work-life environment<br>□ Safe and caring environment<br>□ Lifestyle and Wellness programs<br>□ Work-life flexibility</td></tr>
</table>

## *Corporate Social Responsibility (CSR)*

*Internal CSR*
Internal Corporate Social Responsibility relates to the attitude of the employer towards its employees. As stated in the above paragraphs, Four Rivers is committed to abiding by a code of conduct that places emphasis on the health and well-being of its employees. In addition to internal CSR, the Company will also invest in external CSR.

*External CSR*
Four Rivers will invest in the following areas:

- ☐ Philanthropy: Four Rivers will commit to allocating 2-3% of net profits to a CSR fund that will be managed by the Company. This fund will benefit a worthy local cause such as a school, medical clinic, and/or religious establishment. Since the project is yet under construction, the final destination of this fund is not yet made. The company will take time to analyze local groups/institutions and will make the selection based on several indicators including, but not limited to, their past performance, extent of related needs in the adjacent community, and change measurability. The Company will also ask that all employees participate in a "volunteer" day once every six months. This effort will involve all employees, including management and staff, volunteering their time together at a local school, medical clinic, and/or home for the elderly.
- ☐ Voluntary hazard elimination: During business operations and as indicated in the paragraph below, the building will be operated with innovative technology that will eliminate hazard linked to the use of chemicals traditionally used in typical building maintenance. This will indirectly benefit the surrounding communities as well as customers and staffs.
- ☐ Creating shared value: Creating shared value is based upon the connection between corporate success and social well-being. The Company will implement a waste management program aiming at reducing consumer good waste, recycle materials when possible, to reduce the overall carbon footprint of the structure and its residents, making the enterprise more successful while increasing the well-being of the wider community. As the program gets more efficient and successful over time, the Company will aim at expending its program to the neighborhood in order to share its success and increase its impact.

## *Sustainable Development*

This project has been designed to meet the growing demand for modern, efficient office rental space in Yangon. Located in the heart of the city's northern district, the project will utilize the most modern construction techniques with high-quality local labor, design, and materials. The building will provide fully completed open floor plan offices with the latest modern IT infrastructure, telecoms, floor, lighting, and ceiling finishes. High-speed internet and telephone lines will come pre-installed throughout the building office and common areas, along with highly efficient appliances and lighting that use as little electricity as possible. The common spaces and office floors will maximize natural light through ample windows and proper ventilation. The landscaping plan includes the planting of native plants, trees, and grasses to keep in line with the neighborhood aesthetic.

| **Sustainable Elements of the Project** | |
|---|---|
| ☐ Energy Efficient Solar Reflective Double Glazed Curtain Wall to maximize air conditioning efficiency | ☐ A high degree of SMART building control to maximize efficiency of interior, exterior and landscape lighting systems, lift services and |

| | |
|---|---|
| ☐ 24-hour back-up generator for uninterrupted power supply using the latest fuel efficient generators<br>☐ Fully Automated (LFS) fire prevention safety system governing extinguishers, alarms and sprinklers<br>☐ Native landscaping that requires limited amounts of pesticides and water<br>☐ Environmentally sensitive pest control | centralized AC systems.<br>☐ Recyclable Water purification system to create potable and landscape irrigation water for the entire building.<br>☐ Waste management program to reduce consumer good waste, recycle materials where possible, to reduce the overall carbon footprint of the structure and occupants.<br>☐ Maintenance of the public road in front of the building to ensure that it is repaired regularly and any damage from construction is remedied |

We respectfully submit this application for your review.

Sincerely,

Randolph Post Eddy III
Managing Director

Four Rivers Inya Office Co. Ltd.

**Date : 10 February 2017**

**To**
**Chairman**
**Myanmar Investment Commission**
**Yangon, Myanmar.**

**Subject: : Submission of Fire Safety Plan for Four Rivers Inya Office Co Ltd**

1. In building high level Grade A officers and renting offices formed by the establishment of Four Rivers Inya Office Co. Ltd according to the 100% foreign- owned by the four Rivers Real Estates Pte. Ltd, it is arranged effective prevention measures in order for not to occur financial and other losses due to the undesirable dangers.

2. It is adjusted to comply with the following functions and duties for fire safety:-

   (a) Fire prevention service;

   (b) Fire extinguishing service;

   (c) Rehabilitation service.

3. As the fire prevention is the most fundamental and effective service: -

   (1) to remove and prohibit the flammable circumstances:

   (2) to clean the flammable wastes, garbages and weeds in the construction site;

   (3) to hang the warning or signboards for the danger of fire, such as "No smoking, Don't neglect fire, use the fire systematically etc:" in the construction site and to place the special warnings where the fuel or flammable things are stored/handled;

   (4) to fix the emergency ladder which is strong and enough width, and to write and post the guiding signboards for emergency exits;

   (5) to install and use the electricity lines according to the provisions and techniques from the Myanmar Electricity Power Corporation;

   (6) to install the earth wire and lightning rod at the building;

   (7) to draw and designate the priority level marks at the materials to be used for office and work.

4. The following measures shall be complied to prevent not to be on fire and during the fire incident.

(1) to keep the extinguishers, baskets of sand, automatic warning systems and smoke detection system at every building and necessary places;

(2) to install fire hoses and dry rising system;

(3) In order to extinguish, one underground water tank with the capacity of 87987.7 gallons and an overhead water tank with the capacity of 600 gallons shall be places;

(4) to designate prioritized functions to be extinguished in case of fire;

(5) to set duty for the fire safety staff daily;

(6) to conduct fire protection trainings for the staff in cooperation with the fire Department;

(7) to follow the instructions and fire safety plans adopted by the fire Department from time to time.

**Rehabilitation Service**

Fire insurance policy shall be bought at the fire insurance department in order to cover the injury of human, and losses of machineries due to the fire.

Yours Sincerely,

---------------------------------------------------

Mr. Randolph Post Eddy III
Director
Four River Inya Office Co Ltd

# မီးဘေးလုံခြုံရေးစီမံချက်

၁။ Four Rivers Real Estates Pte. Ltd သည် 100% နိုင်ငံခြားသားပိုင်သော Four Rivers Inya Office Co., Ltd. တည်ထောင်ပြီး အဆင့်မြင့် Grade A ရုံးခန်းများ တည်ဆောက်၍ ရုံးခန်းများငှားရမ်းခြင်း လုပ်ငန်းကို ဆောင်ရွက်ရာတွင် မလိုလားအပ်သော အန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေးအတွက် ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်သွားရန် စီစဉ်ထားရှိပါသည်။

၂။ မီးဘေးလုံခြုံရေးအတွက် အောက်ပါလုပ်ငန်းတာဝန်များကို လိုက်နာ ဆောင်ရွက်ရန် ညှိနှိုင်းစီစဉ်ထားပါသည်။

(က) မီးဘေး အန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်း

(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်း

(ဂ) ပြန်လည်ထူထောင်ရေး

၃။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံအကျဆုံးနှင့် အထိရောက်ဆုံးလုပ်ငန်းဖြစ်၍

(၁) မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊

(၂) ဆောက်လုပ်ရေးလုပ်ငန်းခွင်အတွင်း မီးလောင်စေနိုင်သော စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ ပေါင်းမြက်များကို အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်၊

(၃) ဆောက်လုပ်ရေးလုပ်ငန်းခွင်အတွင်း "ဆေးလိပ်မသောက်ရ၊ မီးမပေါ့ဆရ၊ မီးကို စနစ်တကျသုံးစွဲပါ" စသည့် မီးဘေးအန္တရာယ်သတိပေးချက်စာတမ်း၊ ဆိုင်းဘုတ်များရေးသားချိတ်ဆွဲထားခြင်း၊ အထူးသဖြင့် လောင်စာဆီနှင့် အခြားမီးလောင်လွယ်သည့် ပစ္စည်းများ ထားသို /ကိုင်တွယ်သည့်နေရာတို့တွင် အထူးသတိပေးချက်များ ဆောင်ရွက်ထားရန်၊

(၄) ခိုင်မာတောင့်တင်း၍ လုံလောက်သော အကျယ်အဝန်းရှိ အရေးပေါ်လှေကားတပ်ဆင်ထားရှိရန်နှင့် အရေးပေါ် ထွက်ပေါက်လမ်းညွှန်ဆိုင်းဘုတ်များ ရေးသားထားရှိရန်၊

(၅) လျှပ်စစ်သွယ်တန်း အသုံးပြုခြင်းကိုမြန်မာ့လျှပ်စစ်လုပ်ငန်းမှ ပြဌာန်းချက်များ၊ နည်းပညာများအတိုင်းတပ်ဆင် အသုံးပြုရန်။

(၆) အဆောက်အဦးတွင် မြေစိုက်ကြိုးများနှင့် မိုးကြိုးလွှဲများတပ်ဆင်ရန်၊

(၇) ရုံးသုံး၊ လုပ်ငန်းခွင်သုံးပစ္စည်းများကို ဦးစားပေးအဆင့် အမှတ်အသားများ ရေးဆွဲသတ်မှတ်ထားရန်၊

၄။ မီးလောင်မှုမဖြစ်ပွားရေးတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွားလာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျ လိုက်နာဆောင်ရွက်ရန်ဖြစ်ပါသည်။

(၁) အဆောက်အဦးတိုင်းနှင့် လိုအပ်သောနေရာတိုင်းတွင် မီးသတ်ဆေးဘူးများ၊ သဲပုံးများ၊ အလိုအလျောက် ကြိုတင်သတိပေးစနစ်နှင့် Smoke Detection System များထားရှိရန်၊

(၂) မီးသတ်ပိုက်များအပြင် Dry Rising Systems များတပ်ဆင်ထားရှိရန်၊

(၃) မီးငြိမ်းသတ်နိုင်ရန်အတွက် ရေလှောင်ကန်များအား မြေအောက်တွင် ဂါလံ(၈၇၉၈၇.၇)ဆံ့ မြေအောက် ရေလှောင်ကန်နှင့် အဆောက်အဦး၏ အပေါ်ဆုံးတွင် ဂါလံ ၆၀၀ဆံ့ Over Tank တစ်ခုထားရှိပါမည်။

(၄) မီးလောင်လျှင် ဦးစားပေးငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။

(၅) မီးဘေးလုံခြုံရေးဝန်ထမ်းကို နေ့စဉ်တာဝန်ချထားပါမည်။

(၆) မီးသတ်ဦးစီးဌာနနှင့်ပူးပေါင်း၍ ဝန်ထမ်းများကို မီးဘေးအန္တရာယ်ကာကွယ်ရေး သင်တန်းများပို့ချပါမည်။

(၇) မီးသတ်ဦးစီးဌာနမှ အခါအားလျော်စွာ ချမှတ်ထားသည့် ညွှန်ကြားချက်များ မီးဘေးအန္တရာယ်လုံခြုံရေး စီမံချက်များကို လိုက်နာဆောင်ရွက်ပါမည်။

**ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း**

အကယ်၍မီးလောင်မှုကြောင့် လူနှင့် စက်ပစ္စည်းများ ထိခိုက်မှု ဆုံးရှုံးများရှိပါက ဆုံးရှုံးမှုများအတွက် ငွေကြေးခိုင်မာ တောင့်တင်းသော မီးအာမခံဌာနတွင် လုံလောက်သော မီးအာမခံ ပေါ်လစီ ဝယ်ယူထားရှိရန် ဆောင်ရွက်သွားပါမည်။

Yours Sincerely,

---------------------------------------------

Mr. Randolph Post Eddy III
Director
Four River Inya Office Co Ltd

